**အကြောင်းအရာ။** **Canal + Myanmar Ltd.မှ ရာနိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အခပေးရုပ်မြင်သံကြားအစီအစဉ်များနှင့် ဝန်ဆောင်မှုများအား ကြည့်ရှုသူများထံ ကမ်းလှမ်းရောင်းချခြင်း၊ ဈေးကွက်ရှာဖွေခြင်းနှင့် စီမံခန့်ခွဲခြင်းဆိုင်ရာ ဝန်ဆောင်မှုများ (Management of Pay-TV offers and services, commercialization and marketing of Pay-TV services and Pay-TV consumer services) လုပ်ငန်း နှင့်စပ်လျဉ်းသည့် အဓိက အချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br><br><br><br><br>လုပ်ငန်းအမျိုးအစား | - Canal + Myanmar Ltd.<br>- ဦးဝင်းမော်<br>- ရာနိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>စင်ကာပူနိုင်ငံ Canal + Myanmar Holding Company Pte. Ltd. မှ ၉၉.၈ %<br>ပြင်သစ်နိုင်ငံ Mr. Erwan LUHERNE မှ ၀.၂ %<br>- အခပေးရုပ်မြင်သံကြား အစီအစဉ်များနှင့် ဝန်ဆောင်မှုများအား ကြည့်ရှုသူများထံ ကမ်းလှမ်းရောင်းချခြင်း၊ ဈေးကွက်ရှာဖွေခြင်း နှင့် စီမံခန့်ခွဲခြင်းဆိုင်ရာ ဝန်ဆောင်မှုများ(Management of Pay-TV offers and services, commercialization and marketing of Pay-TV services and Pay-TV consumer services) |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ စမ်းချောင်းမြို့နယ်၊ ဗားကရာလမ်း၊ Parkside One Building ၏ အမှတ် ၂၇၁၊ ၂၇၃၊ (၆) လွှာ နှင့် (၇) လွှာ (၁၈,၆၄၆ စတုရန်းမီတာ) |
| ၃။ | မြေ /အဆောက်အအုံပိုင်ရှင်<br>မြေ/အဆောက်အအုံ အကျယ်အဝန်း<br>မြေ/အဆောက်အအုံ ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း /အသုံးပြုခွင့်သက်တမ်း | - Yangon Management Co., Ltd.<br>- ၁၈,၆၄၆ စတုရန်းမီတာ<br>- တစ်လလျှင် အမေရိကန်ဒေါ်လာ ၂၂,၅၃၂.၈၀ (တစ်စတုရန်းမီတာလျှင် တစ်လ အမေရိကန်ဒေါ်လာ ၁.၂၁)<br>- ၃ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် |

| | | |
|---|---|---|
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၃ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား<br><br><br>ငွေသား<br>စုစုပေါင်း | **- အမေရိကန်ဒေါ်လာ ၃၄.၆၀ သန်း**<br><br>**နိုင်ငံခြား(US$)** **စုစုပေါင်း (US$)**<br>၃၄.၆၀ **၃၄.၆၀**<br>**၃၄.၆၀** **၃၄.၆၀** |
| ၇။ | ပထမနှစ်၌ ဝန်ဆောင်မှုပေးမည့်အစီအစဉ် | **စဉ် / အမျိုးအမည် / လိုင်းအရေအတွက် / ဈေးနှုန်း/ တစ်လ (ကျပ်)**<br>၁။ Acess Package (DTT) / ၃၂ / ၄,၅၀၀<br>၂။ Acess Package (DTH) / ၃၇ / ၄,၅၀၀<br>၃။ Basic Package (DTT) / ၆၇ / ၇,၅၀၀<br>၄။ Basic Package (DTT) / ၈၀ / ၇,၅၀၀ |
| ၈။ | အခြားတင်ပြချက် | - ပြည်တွင်းဝန်ထမ်း ၉၅ ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၆၀၀,၀၀၀ ဖြစ်ပါသည်။ပြည်ပဝန်ထမ်း ၆ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံး လစာမှာ ကျပ် ၁၁,၀၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁၃,၀၀၀,၀၀၀ ဖြစ်ပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် AYA Bank ၌ Forever Group အမည်ဖြင့် လည်းကောင်း ပြင်သစ်နိုင်ငံ Societe Generale တွင် Canal + International အမည်ဖြင့် လည်းကောင်း ဘဏ်စာရင်းဖွင့်လှစ်ထားပါသည်။<br>- စင်ကာပူနိုင်ငံ၌ မှတ်ပုံတင်ထားသည့် CANAL + INTERNATIONAL နှင့် Forever Group Co.,Ltd. တို့ ချုပ်ဆိုထားသည့် JV စာချုပ်၊ Canal+Myanmar Co., Ltd ၏ ကုမ္ပဏီအမည်စစ်လျှောက်ထားလွှာ၊ MOA နှင့် AOA(မူကြမ်း)၊ Canal+Myanmar Ltd. နှင့် Yangon Property Management Co., Ltd တို့ ချုပ်ဆိုမည့် တိုက်ခန်းငှားရမ်းခြင်း စာချုပ် (မူကြမ်း) တို့အား တင်ပြထားပါ |

| | | |
|---|---|---|
| | | သည်။ |
| ၉။ | စိစစ်တင်ပြချက် | - အတည်ပြုလုပ်ငန်းအား ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သော (၃၄/၂၀၁၇) ကြိမ်မြောက် အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးသို့ တင်ပြပြီးဖြစ်ပါသည်။<br>- အတည်ပြုလုပ်ငန်းသည်အမိန့်ကြော်ငြာစာအမှတ်၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်းမရှိသည့်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ခံစားနိုင်ခြင်းမရှိပါ။<br>- ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက - ၅(အ)/အ-၀၀၅/၂၀၁၇(၅၇၂)

ရက်စွဲ၊ ၂၀၁၇ခုနှစ်၊ ဒီဇင်ဘာ လ ၂၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Canal + Myanmar Ltd. တည်ထောင်၍ management of pay-TV offers and services, commercialization and marketing of pay-TV services and pay-TV consumer services လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်္ကာပူနိုင်ငံ Canal+ Myanmar Holding Pte. Ltd. မှ ၉၉.၈ % နှင့် ပြင်သစ်နိုင်ငံသား Mr Erwan LUHERNE မှ ၀.၂ % ထည့်ဝင်ကာ Canal + Myanmar Ltd. တည်ထောင်၍ အမှတ် ၂၇၁၊ ၂၇၃၊ Parkside One Building၊ ဗားကရာလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးအား ငှားရမ်း၍ management of Pay-TV offers and services, commercialization and marketing of Pay-TV services and Pay-TV consumer services လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာဖြင့် တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Canal + Myanmar Ltd. ၏ ကုမ္ပဏီ အမည်စစ်လျှောက်ထားလွှာ၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ Canal + International နှင့် Forever Group တို့ ချုပ်ဆိုထားသည့် JV agreement နှင့် တိုက်ခန်းငှားရမ်းခြင်း စာချုပ်(မူကြမ်း) တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ တိုက်ခန်းငှားရမ်းသက်တမ်းမှာ ကနဦး ၃နှစ်ဖြစ်ပြီး တိုက်ခန်းအကျယ်အဝန်း (၁၈,၆၄၆ စတုရန်းမီတာ) အား ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။ လစဉ်ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၂၂,၅၃၂.၈ (တစ်စတုရန်းမီတာလျှင် တစ်လ အမေရိကန်ဒေါ်လာ ၁.၂၁) ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ သက်တမ်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၃၄.၆၀ သန်းဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက်ပြည်တွင်းဝန်ထမ်း ၉၅ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ၆ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၆၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁,၀၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁၃,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အတည်ပြုလုပ်ငန်းသည် management of Pay-TV offers and services, commercialization and marketing of Pay-TV services and Pay-TV consumer services လုပ်ငန်းများကို ဝန်ဆောင်မှုပေးမည်ဖြစ်ပြီး ပုံမှန်နှစ် (ပထမနှစ်)၏ ဝန်ဆောင်မှုပေးနိုင်မည့် အမျိုးအစားများနှင့် ဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | လိုင်း အရေအတွက် | ဈေးနှုန်း/ တစ်လ (ကျပ်) |
|---|---|---|---|
| ၁။ | Acess Package (DTT) | ၃၂ | ၄,၅၀၀ |
| ၂။ | Acess Package (DTH) | ၃၇ | ၄,၅၀၀ |
| ၃။ | Basic Package (DTT) | ၆၇ | ၇,၅၀၀ |
| ၄။ | Basic Package (DTT) | ၈၀ | ၇,၅၀၀ |

၈။ အတည်ပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထား မှတ်ချက်တောင်းခံထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် AYA Bank ၌ Forever Group အမည်ဖြင့် လည်းကောင်း ပြင်သစ်နိုင်ငံ Societe Generale တွင် Canal + International အမည်ဖြင့် လည်ကောင်း ဘဏ်စာရင်းဖွင့်လှစ်ထားကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အတည်ပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အတည်ပြုလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် အကျုံးဝင်သည့် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်း မရှိသည့်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် မရရှိနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(ခ) ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ သို့ဖြစ်ပါ၍ Canal + Myanmar Ltd. မှ management of Pay-TV offers and services, commercialization and marketing of Pay-TV services and Pay-TV consumer services လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ